


# အရဗီဘာသာစကား
# အရဗီစာပေ
# နှင့်
# ကျွန်ုပ်တို့တာဝန်


မွဖ်သီမုဟမ္မဒ်အာစွင်းမ်
(နဒ်ဝီ၊ မဇွာဟေရီ၊ အဇွလ်ဟာစနီ)

بسم الله الرحمن الرحيم

الحمد لله على جميع النعم، والصلاة والسلام على سيدنا محمد وآله وصحبه ماجرى المداد بالقلم . وبعد

ဒီဇင်ဘာလ(၁၈)ရက်နေ့သည် **“ကမ္ဘာလုံးဆိုင်ရာ အရဗီဘာသာစကားနေ့”** ဖြစ်သည်။ ဤနေ့ကို ဂုဏ်ပြုသောအားဖြင့် ကမ္ဘာအဝှမ်းရှိ အရဗီစာပေ၊ အရဗီစကားချစ်မြတ်နိုးသူများက မိမိတို့ ပိုင်ဆိုင်သည့် စွမ်းရည်စွမ်းပကားများဖြင့် အရဗီဘာသာစကား၏အလှ တရားများကို ပြောဆိုခြင်းဖြင့် တနည်း၊ ရေးသားခြင်းဖြင့် တဖုံ ဖော် ပြကြပါသည်။

ဤခံယူချက်ကို အရင်းခံကာ ကျွန်ုပ်သည်လည်း အရဗီစာပေ၊ အရဗီဘာသာစကားအကြောင်း အနည်းငယ် ရေးသားတင်ဆက်လိုက် ပါသည်။ အစီအစဉ်မရှိဘဲ တက်သုတ်ရိုက် စီစဉ်လိုက်ရခြင်းကြောင့် အမှားများစွာ ရှိနေမှာ သေချာပါသည်။ မည်သူမဆို လွတ်လပ်စွာ ဝေဖန်အကြံပြုနိုင်ပါသည်။

ဤကျမ်းငယ်ဖြစ်မြောက်ရေးအတွက် အထူးကူညီကာ ပါရမီဖြည့်စွက်ပေးခဲ့ကြသော ချစ်မိတ်ဆွေ မုဖ်သီ အစ်ဒုလ်ဂနီ၊ မော်လာနာဖိုင်ဆွလ်နှင့် ချစ်တပည့် မုဟမ္မဒ်ကအစ်ဗင်န်ဟာစံတို့ကို လည်း ရင်ထဲအသဲထဲမှ လှိုက်လှဲစွာ ကျေးဇူးအထူးတင်ရှိပါကြောင်း…။

## အရဗီဘာသာစကားဆိုသည်မှာ

စာမီယာ ဘာသာစကားများအနက် တစ်ခုဖြစ်ပါသည်။ ဂန္တဝင်ဘာသာစကားတစ်ခုလည်းဖြစ်သည်။ ဂျန္နသ်သုခဘုံတွင်း စတင်ပေါက်ဖွားလာသည့် ဘာသာစကားဖြစ်သည်။ ထို့ကြောင့် အရဗီ ဘာသာစကားကို မြေပြင်တွင် ပွင့်လန်းသည့် ကောင်းကင်ကျ ဘာသာစကားတစ်ခုဟု တင်စားပါရစေ။

## အရဗီဘာသာစကား၏ ထွတ်မြတ်မှု

အရဗီဘာသာစကား၏ ထွတ်မြတ်မှုနှင့်ပတ်သက်ပြီး ကျမ်းမြတ် ကုရ်အာန် ဟဒီးဆ်တော်များနှင့် ပညာရှင်တို့၏အဆိုအမိန့်များ ရှိပါသည်။

## ကျမ်းမြတ်ကုရ်အာန်လာ ထွတ်မြတ်မှုများ

မြင့်မြတ်တော်မူသော အရှင်မြတ်သည် ကျမ်းမြတ်ကုရ်အာန်ကို အရဗီဘာသာစကားဖြင့် ချပေးသနားတော်မူထားကြောင်း (၁၁) နေရာတွင် အမိန့်ရှိထားသည်။

(၁) စူရဟ်ယူစွတ်ဖ် (အာယသ်(၂)တွင်...

{الر تِلْكَ آيَاتُ الْكِتَابِ الْمُبِينِ  إِنَّا أَنزَلْنَاهُ قُرْآنًا عَرَبِيًّا لَّعَلَّكُمْ تَعْقِلُونَ} [يوسف: ١، ٢].

(၂) စူရဟ် သွာဟာအာယသ်(၁၁၃)တွင် ...

{وَكَذَلِكَ أَنزَلْنَاهُ قُرْآنًا عَرَبِيًّا وَصَرَّفْنَا فِيهِ مِنَ الْوَعِيدِ لَعَلَّهُمْ يَتَّقُونَ أَوْ يُحْدِثُ لَهُمْ ذِكْرًا} [طه: 113] .

(၃) စူရဟ် ဇုမရ် အာယသ် (၂၈)တွင် ...

{وَلَقَدْ ضَرَبْنَا لِلنَّاسِ فِي هَذَا الْقُرْآنِ مِن كُلِّ مَثَلٍ لَّعَلَّهُمْ يَتَذَكَّرُونَ 27 قُرْآنًا عَرَبِيًّا غَيْرَ ذِي عِوَجٍ لَّعَلَّهُمْ يَتَّقُونَ} [الزمر: 27، 28]

(၄) စူရဟ် ဖွတ်စ်စွေ့လသ် အာယသ်(၃)တွင်...

{حم 1 تَنزِيلٌ مِّنَ الرَّحْمَنِ الرَّحِيمِ 2 كِتَابٌ فُصِّلَتْ آيَاتُهُ قُرْآنًا عَرَبِيًّا لِّقَوْمٍ يَعْلَمُونَ} [فصلت: ١ – ٣].

(၅)စူရဟ် ဇုခ်ရုဖ် အာယသ် (၃)တွင်...

{حم 1 وَالْكِتَابِ الْمُبِينِ 2 إِنَّا جَعَلْنَاهُ قُرْآنًا عَرَبِيًّا لَّعَلَّكُمْ تَعْقِلُونَ 3 وَإِنَّهُ فِي أُمِّ الْكِتَابِ لَدَيْنَا لَعَلِيٌّ حَكِيمٌ} [الزخرف: ١ – ٤].

(၆) စူရဟ် ရှူရာ အာယသ် (၇)တွင်...

{وَكَذَلِكَ أَوْحَيْنَا إِلَيْكَ قُرْآنًا عَرَبِيًّا لِّتُنذِرَ أُمَّ الْقُرَى وَمَنْ حَوْلَهَا وَتُنذِرَ يَوْمَ الْجَمْعِ لا رَيْبَ فِيهِ فَرِيقٌ فِي الْجَنَّةِ وَفَرِيقٌ فِي السَّعِيرِ} [الشورى: ٧].

(၇) စူရဟ် နဟ်လ် အာယသ် (၁၀၃)တွင်...

{ وَلَقَدْ نَعْلَمُ أَنَّهُمْ يَقُولُونَ إِنَّمَا يُعَلِّمُهُ بَشَرٌ لِّسَانُ الَّذِي يُلْحِدُونَ إِلَيْهِ أَعْجَمِيٌّ
وَهَذَا لِسَانٌ عَرَبِيٌّ مُّبِينٌ} [النحل: 103].

(၈) စူရဟ် အဟ်ကားဖ် အာယသ် (၁၂)တွင်...

{وَمِن قَبْلِهِ كِتَابُ مُوسَى إِمَامًا وَرَحْمَةً وَهَذَا كِتَابٌ مُّصَدِّقٌ لِّسَانًا عَرَبِيًّا لِّيُنذِرَ
الَّذِينَ ظَلَمُوا وَبُشْرَى لِلْمُحْسِنِينَ} [الأحقاف: 12].

(၉) စူရဟ် ရှုအရာအ် အာယသ် (၁၉၂-၁၉၉)တွင်...

{وَإِنَّهُ لَتَنزِيلُ رَبِّ الْعَالَمِينَ 192 نَزَلَ بِهِ الرُّوحُ الأَمِينُ 193 عَلَى قَلْبِكَ
لِتَكُونَ مِنَ الْمُنذِرِينَ 194 بِلِسَانٍ عَرَبِيٍّ مُّبِينٍ 195وَإِنَّهُ لَفِي زُبُرِ الأَوَّلِينَ
196 أَوَلَمْ يَكُن لَّهُمْ آيَةً أَن يَعْلَمَهُ عُلَمَاءُ بَنِي إِسْرَائِيلَ 197 وَلَوْ نَزَّلْنَاهُ عَلَى
بَعْضِ الأَعْجَمِينَ 198 فَقَرَأَهُ عَلَيْهِم مَّا كَانُوا بِهِ مُؤْمِنِينَ} [الشعراء: 192 –
199]

(၁၀) စူရဟ် ဖွတ်စွေ့လသ် အာယသ် (၄၄)တွင်...

{وَلَوْ جَعَلْنَاهُ قُرْآنًا أَعْجَمِيًّا لَّقَالُوا لَوْلا فُصِّلَتْ آيَاتُهُ أَأَعْجَمِيٌّ وَعَرَبِيٌّ قُلْ هُوَ
لِلَّذِينَ آمَنُوا هُدًى وَشِفَاءٌ وَالَّذِينَ لا يُؤْمِنُونَ فِي آذَانِهِمْ وَقْرٌ وَهُوَ عَلَيْهِمْ عَمًى
أُوْلَئِكَ يُنَادَوْنَ مِن مَّكَانٍ بَعِيدٍ} [فصلت: ٤٤].

(၁၁) စူရဟ် ရအ်ဒ် အာယသ် (၃၇)တွင်...

{وَكَذَٰلِكَ أَنزَلْنَاهُ حُكْمًا عَرَبِيًّا وَلَئِنِ اتَّبَعْتَ أَهْوَاءَهُم بَعْدَ مَا جَاءَكَ مِنَ الْعِلْمِ مَا لَكَ مِنَ اللَّهِ مِن وَلِيٍّ وَلَا وَاقٍ} [الرعد: 37].

အထက်ပါအာယသ်တော်များတွင် အချက်နှစ်ချက်ကို အဓိက တွေ့ရှိရပါသည်။

၁။ ကျမ်းမြတ်ကုရ်အာန်သည် အရဗီဖြစ်ကြောင်း။

၂။ အရှင်မြတ်က ကျမ်းမြတ်ကုရ်အာန်အတွက် အရဗီဘာသာစကားကို ရွေးချယ်ထားကြောင်း။

အလွန်ထွတ်မြတ်လှသည့် ကျမ်းမြတ်ကုရ်အာန်အတွက်အရဗီ ဘာသာစကားကိုသာ ရွေးချယ်ထားခြင်းသည် အရဗီဘာသာစကား၏ ထွတ်မြတ်မှုတစ်ရပ်ပင် မဟုတ်ပါလော...။

## ဟဒီးဆ်တော်လာ ထွတ်မြတ်မှုများ

ကိုယ်တော်မြတ် ﷺ နေ့စဉ် မိန့်ကြားတော်မူခဲ့သော ကိုယ် တော့်မိန့်ကြားချက်များကို ဟဒီးဆ်ဟု ခေါ်ဆိုပါသည်။ ထိုဟဒီးဆ် တော်များအားလုံးသည် အရဗီဘာသာစကားဖြင့်သာ မိန့် ဆိုထားခြင်း မှာ အရဗီစကား၏ ထွတ်မြတ်မှုပင်ဖြစ်သည်။

ကိုယ်တော်မြတ် ﷺ သည် လောကတွင် နေထိုင်စဉ် (၆၃)နှစ် တာကာလတစ်လျှောက်လုံးတွင် အရဗီဘာသာစကားတစ်ခုတည်းကို သာ သုံးစွဲခဲ့ကြောင်း စီရသ်ပညာရှင်များက သက်သေထူနေပါသည်။

## အရဗီစကား၏ ထွက်မြတ်မှုနှင့်ပတ်သက်ပြီး ပညာရှင်တို့၏ အဆိုအမိန့်များ

သမ္မတကြီး အုမရ် ﵁ သခင်က အဗူမူစာ အရ်ှအရီ ﵁ သခင်ထံ အောက်ပါအတိုင်း သဝဏ်လွှာပေးပို့ခဲ့သည်။

كتب عمر إلى أبي موسى : ( أما بعد فتفقهوا في السنة ، وتفقهوا في العربية ، وأعربوا القرآن فإنه عربي ) رواه ابن أبي شيبة

“အသင်တို့ ဟဒီးဆ်တော်များ၊ စွန္နသ်တော်များနှင့်ပတ်သက်ပြီး ဂဃနဏ နားလည်ရန် ကြိုးစားအားထုတ်ပါ။ အရဗီဘာသာစကား၊ စာပေကိုလည်း နှိုက်နှိုက်ချွတ်ချွတ် ခရေစေ့တွင်းကျ နားလည်နိုင်ရန် အားထုတ်ပါ။ ကျမ်းမြတ်ကုရ်အာန်ကိုလည်း ဗျည်းသရမှန်ကန်စွာ ဖတ်ရွတ်ကြပါ။ ကျမ်းမြတ်ကုရ်အာန်သည် အရဗီစကားဖြင့် ကျရောက်ထားသည်။”

အေမာမ်ရှာဖေ့အီ﵀သခင်က မိန့်ဆိုသည်မှာ - “အရဗီစာပေကို သင်ယူနိုင်စွမ်းရှိသူတိုင်းအပေါ်၌ အရဗီစကား၊စာပေအား သင်ယူဆည်းပူးထိုက်သည်။ အကြောင်းမှာ အရဗီစကားသည် ကနဦး ဘာသာစကားတစ်ခု ဖြစ်သည့်အလျောက် ချစ်မြတ်နိုးသင့်သောကြောင့်ပင် ဖြစ်သည်။ သို့သော် အခြားဘာသာစကားတို့ကို သင်ယူ ပြောဆိုသူများကိုလည်း ဟရာမ်လုပ်ရပ်ကို ကျူးလွန်သူများဟု မဆိုထိုက်ပေ။”

အေမာမ် အိဗ်နေ့ သိုင်မီယဟ် ﷺ က မိန့်ဆိုသည်မှာ - အရဗီ ဘာသာစကားသည် ဒီးန်သာသနာအနက်မှဖြစ်သည်။ ၎င်းအား သိရှိနားလည်ရန် အရေးကြီးသည်။”

သခင်က ဆက်လက်မိန့်ကြားသည်မှာ - “အရဗီ ဘာသာစကားကို ပြောဆိုသည့် အလေ့အကျင့်မွေးမြူခြင်းသည် လူသား၏ အသိဉာဏ်၊ စာရိတ္တ၊ သာသနာတို့အပေါ် အပြည့်အဝ ထိရောက်မှုရှိသကဲ့သို့ ရှေးဦးပုဂ္ဂိုလ်ကြီးများဖြစ်ကြသော ဆွဟာဗာ رَضِيَ اللَّهُ عَنْهُمْ ကြီးများနှင့် သာဗေ့အီ ﷺ သခင်ကြီးများနှင့် တူဆင်စေသည်။

အစ္စလာမ့်အတွေးအခေါ်ပညာရှင်ကြီး မော်လာနာ စိုင်ယစ်ဒ် အဗုလ်ဟစံအလီ (နဒ်ဝီ)ﷺ က “ ဘာသာစကားတိုင်းသည် အရှင်မြတ် တည်ရှိကြောင်း ဖော်ပြပေးနေသည့် အာယသ်(အထောက်အထားများ)ဖြစ်သည်။ ထို့ကြောင့် ဘာသာစကားတိုင်းသည် အရေးပါသည်။ သို့သော် ကမ္ဘာ့ဘာသာစကားအားလုံးတွင် အရဗီစာပေ၊ အရဗီစကားသည် အထွတ်မြတ်ဆုံးဖြစ်သည်။” ဟု မိန့်ခဲ့သည်။

အရဗီစာပေ၏ ထွတ်မြတ်ခြင်းနှင့်ပတ်သက်သည့် အခြားသော အထောက်အထားများကို ဟဇရသ် ရှိုင်ခ် မော်လာနာ ဇကရီယာﷺ ရေးသားပြုစုအပ်သော فضائل اللغة العربية ကျမ်း၊ ယင်းကျမ်းအား မော်လာနာ ဇဖရ်အလီ(အလ်ကောင်ဆရီ)က **“ကုရ်အာန်၊ဟဒီးဆ်ရှုထောင့်မှ အရဗီစာပေ၏ ထူးမြတ်မှု”** အမည်ဖြင့် မြန်မာ ဘာသာပြန်

ဆိုထားပါသည်။ ထိုကျမ်းကိုလည်း လေ့လာဖတ်ရှုပါရန် တိုက်တွန်း နှိုးဆော်အပ်ပါသည်။

## အရဗီဘာသာစကား၏ အရေးပါပုံ

အရဗီဘာသာစကားသည် ကောင်းကင်ဘုံ၏ ဘာသာစကား ဖြစ်သည်။ အရဗီဘာသာစကားဖြင့် ရေးသားမှတ်တမ်းတင်ထားသော ကျမ်းမြတ်ကုရ်အာန်ကို အရှင်မြတ်က “လောင်းဟေ့မဟ်ဖူးဇ်”သင်ပုန်းတော်တွင် မှတ်တမ်းတင်ထားသည်။

အရဗီဘာသာစကားသည် ကျွန်ုပ်တို့သာသနာတော်မြတ်၏ မူရင်းဘာသာစကားဖြစ်သည်။

ကျွန်ုပ်တို့သာသနာတော်၏ ဥပဒေပြုရာတွင် ပင်မ အားထားရသည့် ကျမ်းမြတ်ကုရ်အာန်၊ ဟဒီးဆ်တော်များနှင့် ခေတ်အဆက်ဆက် ပညာရှင်တို့၏အဆိုအမိန့်အများ၊ ထုတ်နှုတ်ချက် အပေါင်းတို့အား အရဗီဘာသာစကားဖြင့် မှတ်တမ်းတင်ထားသည်။

ကျွန်ုပ်တို့သည် နမားဇ်(ဆွလားသ်)ဝတ်ပြုရာတွင် الله أكبر မှ စ၍ السلام عليكم ورحمة الله ထိ အရဗီဘာသာစကား ဖြင့်လာရှိထားသော အာယသ်တော်များ၊ ဇိက်ရ် ဒိုအာတော်များကိုသာ ဖတ်ရသည်။

ဤသည့်အချက်များကြောင့် အရဗီဘာသာစကားသည် ကျွန်ုပ်တို့ အတွက် အလွန်ပင် အရေးပါကြောင်း သိရှိရပါသည်။

## ကမ္ဘာလုံးဆိုင်ရာ အရဗီဘာသာစကားနေ့ ဖြစ်ပေါ်လာပုံ

**ဆော်ဒီနိုင်ငံနှင့်မော်ရိုကို နှစ်နိုင်ငံတို့သည် (၁၉၅၄)ခု နှစ်တွင် အရဗီဘာသာစကားအား ကုလသမ္မဂ္ဂအဖွဲ့ကြီးတွင် တရားဝင် ပြောဆိုသုံးနှုန်းရန် သတ်မှတ်ပေးဖို့ အဆိုတင်သွင်းခဲ့ကြသည်။**

(၁၉၆၀)ခုနှစ်မှ စတင်ပြီး **(UNESCO - United Nations Educational ,Scientific and Cultural Organization = ကုလ သမ္မဂ္ဂ ပညာရေး၊ သိပ္ပံနှင့် ယဉ်ကျေးမှုအဖွဲ့)**ယူနတ်စ်ကိုက အရဗီဘာသာစကားကို ဒေသအတွင်းညီလာခံများတွင် ပြောဆိုနိုင်ရန် သတ်မှတ် ပြဋ္ဌာန်းပေးခဲ့သည်။

(၁၉၆၆)ခုနှစ်၌ **(UNESCO)**ယူနတ်စ်ကိုတွင် အရဗီဘာသာစကားအသုံးပြုမှုကို မြှင့်တင်သောအားဖြင့် အရဗီဘာသာစကားသို့ တစ်ပြိုင်နက် ဘာသာပြန်ခြင်းဝန်ဆောင်မှုကို စီမံဖြစ်ခဲ့သည်။

(၁၉၆၈)ခုနှစ်တွင် **(UNESCO)**ယူနတ်စ်ကိုတွင် အသုံးချ ဘာသာစကားအဖြစ် အရဗီဘာသာစကားကို တဖြည်းဖြည်း လက်ခံကျင့်သုံးလာခဲ့သည်။

**(၁၉၇၃)ခုနှစ်၊ စက်တင်ဘာလ**တွင် အရဗီဘာသာစကားဖြင့် ကုလသမ္မဂ္ဂအဖွဲ့ကြီး၏ အထွေထွေညီလာခံ အစည်းအဝေးများတွင် ပြောဆိုဆက်သွယ်ခွင့်ပြုခဲ့သည်။

**(၁၉၇၃)၊ဒီဇင်ဘာလ**တွင် အရဗီဘာသာစကားသည် ကုလသမ္မဂ္ဂ အဖွဲ့ကြီး၏ တရားဝင် ရုံးသုံးဘာသာစကားအဖြစ် သတ်မှတ်ခံရသည်။

**(၂၀၁၂)ခုနှစ်တွင် ဒီဇင်ဘာလ (၁၈)ရက်နေ့ကို اليوم العالمي للغة العربية "ကမ္ဘာလုံးဆိုင်ရာ အရဗီဘာသာစကား"နေ့အဖြစ် သတ်မှတ် လိုက်သည်။**

## ထူးထူးခြားခြား အရဗီ ဘာသာစကား

အရဗီဘာသာစကားသည် ကောင်းကင်ဘုံ၏ ဘာသာစကား ဖြစ်သည်။

ဤမျှကြီးကျယ်ခမ်းနားလှသော အရဗီစကားကို ပြောဆိုသူ **ကမ္ဘာပေါ်တွင် (၄၂၂)သန်းခန့်** ရှိပါသည်။

ကမ္ဘာ့ကုလသမဂ္ဂအဖွဲ့ကြီးတွင် ရုံးသုံးအဖြစ် ပြောဆိုသုံးနှုန်းခွင့်ရှိသော ဘာသာစကားများအနက် ဆဋ္ဌမမြောက် ဘာသာစကား ဖြစ်ပါသည်။

အရဗီဘာသာစကားတွင်ဗျည်းအက္ခရာ(၂၈)လုံး၊သရ(၁၀)ခုခန့် ရှိပါသည်။ ဗျည်းတို့သည်လည်း လည်ချောင်း၊ ပါးစပ်၊ နှာတံရင်း၊ နှုတ်ခမ်းနှစ်ခုစသည့် နေရာများမှ ထွက်သည်။

အရဗီရေးထုံးနှင့်ရေးသားထားသောဘာသာစကားများမှာ (အူရဒူ၊ ဖာရစီ၊ ကုရ်ဒီ၊ မာလာယာ)တို့ဖြစ်သည်။

ကမ္ဘာပေါ်တွင် အရဗီလက်ရေးလှအနုပညာရပ်သည် အလှပဆုံး အပြောင်မြောက်ဆုံးဖြစ်သည်။ စံချိန်တင် ဗိစ်မိလ္လာဟ် ရေးနည်းတစ်ခုတည်း (500)ကျော်ရှိပါသည်။ နေ့စဉ်နေ့တိုင်းလည်း လက်ရေးလှအနုပညာရှင်တို့က ခေတ်မီဆန်းသစ်သော လက်ရေး ဒီဇိုင်းများကိုလည်း ဆက်လက်ဖန်တီးလျက်ရှိနေပါသည်။

မုဟမ္မဒ်ဆိုသော အရဗီနာမည်သည် ကမ္ဘာပေါ်တွင် အသုံးအများဆုံး စကားလုံးဖြစ်သည်။

မွတ်စ်လင်မ်တွေအတွက် အေဗာဒသ်ဖြစ်စေပြီး ကုသိုလ်အကျိုးရရှိစေမည့် ဘာသာစကားဖြစ်သည်။ အစ္စလာမ်သာသနာတော်၏ မူရင်း ဘာသာစကားဟုလည်း မှတ်သားထားနိုင်သည်။

အရဗီစာပေသည် ဝေါဟာရအင်မတန်မှ ကြွယ်ဝသော စာပေတစ်ခုဖြစ်သည်။

- ခြင်္သေ့အားခေါ်ဆိုသည့်အမည်နာမ **(၃၄၆)**ခုရှိပါသည်။
- အိပ်စက်ခြင်းအတွက် အသုံးအမျိုးမျိုးရှိသည်။

အိပ်စက်စပြုချိန်အတွက် - النعاس

ငိုက်မည်းလာပါက - الوسن

မျက်လုံးများ စဉ်းလာပါက - الترنيق

ကြက်အိပ်ကြက်နိုးဖြစ်နေပါက - الكرى

အိပ်နေသော်လည်း လူတို့၏ အသံကြားနေရပါက - التغفيق

အိပ်ပျော်ခါစ - الإغفاء

ခဏနာအိပ်စက်ခြင်း- التهويم

အချိန်ကြာမြင့်စွာ အိပ်စက်ခြင်း - الرقاد

الحب အချစ်၏ အဆင့်အတန်းများကို (၁၄)မျိုး ခွဲခြားထား သည်။

الهوى – الشغف – الوجد – الكلف – العشق – النجوى – الشوق

– الوصب – الاستكانة – الود – الخلة – الغرام – الهيام –

အေမာမ် ဆအာလဗီရေးသားပြုစုထားသည့် فقه اللغة ကျမ်း၊ အေမာမ် အဗ်ဒုရ်ရဟ်မားန် ဟမ်ဇာနီ ရေးသားပြုစုထားသည့် الالفاظ الكتابية ကျမ်းတို့တွင်အထက်ပါ အလှတရားများကို ဖတ်ရှု ခံစားနိုင်ပါသည်။

- အရဗီဘာသာစကားသည် ض သွားသ်အက္ခရာပါဝင်သည့် တစ်ခု တည်းသော ဘာသာစကားဖြစ်သည်။
- အရဗီစကားလုံးများမှာ (၁၂)သန်းခန့်ရှိပါသည်။
- အင်္ဂလိပ်ဘာသာစကားရှိ chemical, chemistry, camel , cotton, lemon, suger စသည့်စာလုံးများသည် မူရင်း အရဗီစကားလုံးများဖြစ်သည်။
- မြန်မာဘာသာစကားရှိ ခန့်မှန်းခြင်း၊ မုသုံ၊ ကတ္တီပါ စသည့် စာလုံးများ၏ မူရင်းသည်လည်း အရဗီဖြစ်သည်။
- လက်ယာဘက်က ရေးသားရခြင်း
- နိုင်ငံပေါင်း(၂၆)နိုင်ငံ၏ ရုံးသုံးဘာသာစကားဖြစ်ခြင်း စသည့် ထူးခြားချက်များနှင့်အတူ

အောက်ပါအလှတရားများကိုလည်း ဆက်လက်ရှုစားကြည့်ပါ။

ك အက္ခရာဖြင့် အစပြုထားသော စကားလုံးအများစုသည် ခြုံငုံခြင်း၊ လွှမ်းခြုံခြင်း အဓိပ္ပါယ်ပေးသည်။

ဥပမာ - كيس = အိတ် ၊ كوكب = ကြယ်တာယာ၊ ဂြိုလ်၊

كهف = ဂူ    كفن = ကဖန်ပိတ်စ    كف= လက်ဖဝါး

غ အက္ခရာဖြင့် အစပြုထားသော စကားလုံးအများစုသည် ဖုံးကွယ်ခြင်း၊ မရှင်းလင်းခြင်း အဓိပ္ပါယ်ပေးသည်။

ဥပမာ - غيم = မိုးတိမ် ၊ غمام = မိုးတိမ်တိုက်

غبار = ဖုံ    غدر = လှည့်စားခြင်း

ج ن အက္ခရာတို့ဖြင့် အစပြုထားသော စကားလုံး အများစုသည် ဖုံးအုပ်ခြင်း၊ ဖုံးကွယ်ခြင်းအဓိပ္ပါယ်ပေးသည်။

ဥပမာ - الجنين = သန္ဓေသား ၊ الجن = ဂျင်န်များ

الجنة = အုံ့ဆိုင်းနေသော ဂျန္နသ်    الجنون = ရူးသွပ်ခြင်း

ن ف အက္ခရာတို့ဖြင့် အစပြုထားသော စကားလုံး အများစုသည် ထုတ်ခြင်း၊ ထွက်ခြင်း အဓိပ္ပါယ်ပေးသည်။

ဥပမာ - نفر = စစ်တိုက်ရန်ထွက်ခြင်း ၊ نفس = အသက်ရှူခြင်း

نفخ = မှုတ်ခြင်း စသည်ဖြင့် ...

## အရဗီဘာသာစကားသည် အခြားဘာသာစကားများထက် အောက်ပါ အချက်(၇)ချက်တွင် ပိုမိုထူးခြားပါသည်။

ယင်းအချက် (၇)ချက်မှာ

- သူ၏အသံစနစ်နှင့်သင်္ကေတစနစ်
- အက္ခရာနှင့်အဓိပ္ပါယ်ကြား ခိုင်မာသောဆက်စပ်မှု
- နံပေကာရံလှပမှု
- ပတ်ဝန်းကျင်၏ အပြောင်းအလဲများနှင့်လိုက်လျောညီထွေစေမှု
- သရစနစ် ရှင်းလင်းပြတ်သားမှု
- ပင်မစာလုံးတစ်လုံးမှ များစွာသော ဆင့်ပွား စာလုံးများ ခွဲထုတ်နိုင်ခြင်းတို့ဖြစ်သည်။

## အရဗီဘာသာစကားနှင့် ကျွန်ုပ်၏ ဆက်နွယ်နေပုံ

ကျွန်ုပ်တို့သည် အရဗီဘာသာစကားနှင့် မည်သို့မည်ပုံ ဆက်နွယ်နေသည်ကို စဉ်းစားကြည့်ပါ....

မည်သည့်အချိန်ကတည်းက ဟု စာရှုသူထင်ပါသနည်း...။

စဉ်းစားကြည့်ပါ.... သေချာစဉ်းစားကြည့်ပါ...။

ကျွန်ုပ်တို့ မိခင်ဝမ်းမှ လူ့လောကသို့ စတင်ရောက်ရှိလာချိန်ကတည်းက အရဗီဘာသာစကားနှင့် ထိတွေ့လိုက်ရပါသည်။

ကျွန်ုပ်တို့၏ ညာဖက်နားတွင် ဆိုပေးလိုက်သော အဇာန်၊ ဘယ်ဖက်နားတွင် ဆိုပေးလိုက်သော အေကာမသ်တို့သည် အရဗီဘာသာဖြင့်ပင် မဟုတ်ပါလော...။

တီတီတာတာ စကားစတင်ပြောဆိုလာချိန်တွင် ပထမဆုံး မိသားစု၊မောင်နှမသားချင်းများက "အလ္လာဟ်"ဟူသော စာလုံးကို စတင်သင်ပေးကြသည် မဟုတ်ပါလော..။

ထိုမှတဆင့် ဝါကျလိုက်ကျွန်ုပ်တို့ ပထမဆုံး ကျက်မှတ်ခဲ့သည့် သစ္စာစကားဖြစ်သော ကလိမဟ်တော် لاإله إلا الله محمد رسول الله သည်လည်း အရဗီဘာသာစကားဖြင့်ပင် မဟုတ်ပါလော..။

အချင်းချင်းတွေ့ဆုံချိန် နှုတ်ခွန်းဆက်သကြသော စလာမ်မေတ္တာ السلام عليكم ورحمة الله وبركاته / وعليكم السلام ورحمة الله وبركاته

တို့သည်လည်း အရဗီဘာသာစကားပင်ဖြစ်သည်။

ကျွန်ုပ်တို့ မဂ္ဂသင်္ဇအရွယ်တွင် သင်ကြားခဲ့သည့် ဘာသာရပ်များဖြစ်သော (ကုရ်အာန်၊အကီဒဟ်၊ အဒေဗ၊ ဟဒီးဆ်၊ မတ်စ်နူးန် ဒိုအာစသည်တို့အနက် (၇၀%)မှာလည်း အရဗီ ဘာသာ စကားဖြစ်သည်။

ကျွန်ုပ်တို့သည် နေ့စဉ် အရှင်မြတ်နှင့် အနည်းဆုံး ငါးကြိမ်တိတိ နမားဇ်တွင် အလ္လာဟ်အရှင်မြတ်နှင့် အရဗီလို ဆက်သွယ်ကြသည် မဟုတ်ပါလော...။

ကျွန်ုပ်တို့သည် အရဗီဘာသာစကားဖြင့် တည်ရှိနေသော ကျမ်းမြတ်ကုရ်အာန်၏ စူရဟ်များ၊ ဟဒီးဆ်တော်များကို ရင်ထဲတွင် ကျက်မှတ်ထိန်းသိမ်းထားကြသည် မဟုတ်ပါလော...။

ကျွ နုပ်တို့၏ နောက်ဆုံးထွက်သက်တွင် မဖြစ်မနေရွတ်ဆိုရမည့် ကလိမဟ်တော် لاإله إلا الله သည်လည်း အရဗီဘာသာဖြင့်ပင် မဟုတ်ပါလော....။

လူသားတစ်ဦး၏ ကွယ်လွန်ချိန် နောက်ဆုံးစကားသည် لاإله إلا الله ဖြစ်ခဲ့ပါမူ ထိုသူသည် ဂျန္နသ်ဝင်ရောက်ရမည်ဖြစ်သည် ဟု မြတ်ကိုယ်တော် صلى الله عليه وسلم က မိန့်တော်မူခဲ့သည်မဟုတ်ပါလော...။

ကဗရ်အတွင်း မေးမြန်းခံရမည့် မေးခွန်း(၃)ခုဖြစ်သော

من ربك ؟

من نبيك ؟

ما دينك ؟ တို့သည့် အရဗီပင် မဟုတ်ပါလော...။

အရှင်မြတ်ကျွန်ုပ်တို့အားလုံးကို ဂျန္နသ်ချီးမြှင့်တော်မူပါစေ..။ ဂျန္နသ်ထဲတွင်လည်း အရဗီဘာသာစကားဖြင့်သာ ပြောဆိုဆက်သွယ် ရမည်သာဖြစ်သည်။

ထို့ကြောင့် ကျွန်ုပ်တို့ဘဝနှင့်အရဗီဘာသာစကားသည် ခိုင်မာစွာ ဆက်နွယ်လျက်ရှိနေကြောင်း တင်ပြလိုက်ပါသည်။

## အာရဗီဘာသာစကားနှင့် ကျွန်ုပ်တို့တာဝန်

အာရဗီဘာသာစကားသည် လူမျိုးတစ်စု၊ နိုင်ငံတစ်ခု၏ ကိုယ်ပိုင် ဘာသားစကားမဟုတ်ပါ။ သို့သာမက မွတ်စ်လင်မ်ထု တစ်ရပ်လုံး၏ဘာသာစကားဖြစ်သည်။ ကျွန်ုပ်တို့ အစ္စလာမ် သာသနာ တော်မြတ်၏ မူရင်း ဘာသာစကားဖြစ်သည်။

အာရဗီဘာသာစကားကို ပျက်စီးစေခြင်းသည် သာသနာ့ အရင်း အမြစ်များအား ပျက်စီးစေခြင်းဖြစ်သည်။

ထို့ကြောင့်ကျွန်ုပ်တို့သည် မိမိတို့၏ ခန္ဓာ၊ဥစ္စာ၊ဉာဏ်ပညာ စသည်တို့ဖြင့် အာရဗီဘာသာစကားကို ဖြန့်ချိရမည်ဖြစ်ပါသည်။ တတ်ကျွမ်းနိုင်းလည်နိုင်ရန်လည်း ကြိုးစားသင့်ပါသည်။ အနည်းဆုံး အာရဗီဘာသာစကားကို ချစ်ခင်မြတ်နိုး တန်ဖိုးထားကာ ထိန်းသိမ်း ရပါမည်။

### အာရဗီဘာသာစကားအား ရင်သွေးငယ်တို့အား လက်ဆင့်ကမ်းခြင်း

ကျွန်ုပ်တို့သည် မိမိတို့ရင်သွေးငယ်များအား ၎င်းတို့ရှေ့ရေး အတွက် လိုအပ်မည်ဟု ထင်မှတ်သည့် ကမ္ဘာ့ဘာသာစကား အသီးသီး ကို ငွေကုန်ကျေးကြခံကာ သင်ပေး၊သင်ယူပြုစေပါသည်။ ဘာသာ စကားတိုင်းသည် အရှင်မြတ်တည်ရှိကြောင်း ဖော်ပြပေးနေသည့် သက်သေလက္ခဏာများဖြစ်သောကြောင်း ဘာသာစကားတစ်ခု ကို သင်ယူတတ်မြောက်ခြင်းသည် ကောင်းမွန်ပါသည်။ ချီးကျူးထိုက်ပါ

သည်။ ၎င်းတို့သင်ယူတတ်မြောက်ထားသော ဘာသာစကားစွမ်းရည်များဖြင့် လူသားထုကို အကျိုးပြုမည်၊ သာသနာကို ဖြန့်ချိမည်၊ ဤဘာသာစကားများဖြင့် အလ္လာဟ်အရှင်မြတ်ဘက်ကိုဖိတ်ခေါ်မည် ဟူသော ရည်ရွယ်ချက်များပါမည်ဆိုလျှင် ရှေ့ပေါ်မြတင်ဘိအလား ပိုမိုကောင်းမွန်ပါသည်။

ဤနည်းအတိုင်းပင်ကျွန်ုပ်တို့ဘဝလမ်းညွှန်ကျမ်းမြတ်ကုရ်အာန်၏မူရင်းဘာသာစကား၊ကျွန်ုပ်တို့ချစ်နဗီထာဝရပြောဆိုသုံးစွဲခဲ့သော ဘာသာစကား၊ ချစ်နဗီ ဝဖားသ်ဖြစ်ပြီးနောက် ခလီဖွာကြီး(၄)ပါးက အမြတ်တနိုးသုံးစွဲခဲ့သော ဘာသာစကား၊ အိုမဝီဘုရင်တို့(၉၁)နှစ်ကြာသုံးစွဲခဲ့သော ဘာသာစကား၊ အဗ္ဗါစီမင်းဆက်တို့နှစ်ပေါင်း(၅၀၀)ကျော် သုံးစွဲခဲ့သောဘာသာစကား၊ သဖ်စီးရ်ကျမ်းများ၊ ဟဒီးဆ်ကျမ်းများ၊ အစ္စလာမ့်ဖေကဟ်ကျမ်းများ၊ သစောင်ဝ်ဝုဖ်ကျမ်းများ၊ သမိုင်းကျမ်းများ၊ရှိသေသမျှဆိုင်ရာကျမ်းဂန်များ၊ သင်ရိုးကျမ်းများ စသည်တို့၏ မူရင်းဘာသာစကား ဖြစ်သော အရဗီစာပေ၊ အရဗီ စကာ ကိုလည်းသင်ယူသင့်ပါသည်။

ဤဘာသာစကားကို သင်ယူတတ်မြောက်ထားခြင်းဖြင့် နှစ်ဘဝနှစ်ဌာနတွင် မျက်နှာပန်းလှမည်။ ကောင်းမွန်သော ရည်စူးချက်များ၊ ရည်ရွယ်ချက်များပင် သင်ယူလိုက်မည်ဆိုပါက ဆဝါးဗ်ပင်ရရှိဦးမည်။

## ခက်ခဲတယ်လို့ယူဆပြီးများ မသင်ပေးဖြစ်တာလား....

မခက်ပါဘူး.... အရဗီဘာသာစကားသည် ဗျည်း(၂၈)လုံး၊ သရ (၁၁)ခုခန့်ဖြင့်သာ ဖွဲ့စည်းထားပါသည်။ ဗျည်းသရပေါင်းစပ်သံများမှာလည်း တစ်သမတ်တည်းဖြစ်ပါသည်၊ အမျိုးမျိုး ကွဲပြားမနေပါ။

ကျွန်ုပ်တို့မွေးကတည်းက ရင်းနှီးနေပြီးသား ဘာသာစကား တစ်ခုဖြစ်ပါသည်။

## အရဗီ ပတ်ဝန်းကျင် တစ်ခုသာ ဖန်တီးလိုက်ပါ

ယနေ့မှစ၍ ကလေးငယ်တို့ကို

بسم الله الرحمن الرحيم ဆိုနည်း သင်ပေးပါ။

အိမ်ဝင်အိမ်ထွက် ဒိုအာများ လေ့ကျင့်ပေးပါ။

၎င်းတို့ကျက်မှတ်ထားသည့် မတ်စ်နူးန်ဒိုအာများကို သူ့နေရာ၊ သူ့အချိန်ကိုက် ဖတ်ရွတ်စေပါ။

ကျမ်းမြတ်ကုရ်အာန်များများ ဖတ်သည့် အလေ့အကျင့်လုပ်ပေးပါ။

Thank you နေရာမှာ جزاك الله ပြောသည့် အကျင့်ပြုပေးပါ။

Oh my God နေရာမှာ سبحان الله ပြောလာစေရန် လေ့ကျင့်ပေးပါ။

Hello ကို السلام ဖြင့်

Good morning ကို صبحك الله بخير ၊

Good afternoon ကို أضحاك الله بخير

Goon evening ကို أمساك الله بخير

ပျော်ရွှင်နေသော အခိုက်အတန့်များတွင် الحمد لله ဆိုသည့် အလေ့အကျင့် လုပ်ပေးပါ။

ဝမ်းနည်းနေချိန်များတွင် إنا لله وإنا إليه راجعون ဆိုခိုင်းပါ။

နှာချေချိန် الحمد لله၊ သူ့ကို အဖြေပေးချိန် يرحمك الله ၊ ထပ်မံပြီး يهديكم الله ويصلح بالكم ဆိုသည့် ပတ်ဝန်းကျင်တစ်ခု ဖန်တီးပေးပါ။

နာမကျန်းဖြစ်သူကို لا بأس طهور إن شاء الله / شفاك الله ဟု ဆုဒိုအာပေးပါ။

ပြုံးနေသူကို أضحك الله سنك ဟု ပြောပေးပါ။

သတို့သား၊ သတို့သမီးတို့ကို بارك الله لكما وبارك عليكما وجمع بينكما في خير ဟု မင်္ဂလာစကားများပါးပေးပါ။

မည်သို့ပင်ဆိုစေကာမူ ကျွန်ုပ်တို့ဘဝတွင် အရဗီဘာသာ စကားအတွက်နေရာပေးကြည့်ပါစို့လား...

ကျွန်ုပ်တို့နှလုံးသားထဲတွင် အရဗီဘာသာစကား၏ အချစ်အတွက် နေရာချန်ထားပါစို့လား...

မိမိတို့အိမ်များတွင် အရဗီပြောဆိုသည့် ပတ်ဝန်းကျင်တစ်ခု တည်ထောင်ကြည့်ပါစို့လား...

မျိုးဆက်သစ်ရင်သွေးငယ်များကို စားသောက်၊ဆော့ကစား၊ဝတ်ဆင်ရာတွင် အရဗီဖြင့်သာ ပြောဆိုကြရန် သင်ကြားပေးကြစို့လား...

ကလေးတို့ကြည့်သည့် Youtube တွင်လည်း အရဗီအစီအစဉ်များကိုသာ Suscribe လုပ်ပေးကြပါစို့လား...

အရဗီဘာသာစကားနဲ့ ရှင်သန်ကြည့်ကြပါစို့လား ... ဟု တိုက်တွန်းနှိုးဆော်ရင်းဖြင့်....

မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊အဗုလ်ဟစနီ၊မဇ္ဇာဟေ့ရီ)

ဟစ်ဂျ်ရီ (၁၄၄၅)ခု၊ ဂျုမာဒတ်ဆ္ဆာနီယာ (၄)ရက်

18/12/2023(Monday)